





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊မနသ- ၁၀၉၇/၂၀၁၅ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်ခင်သန်းအေး

(ခ) **အဘ အမည်** ဦးဆိုင်ရာ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လမတ(နိုင်)၀၀၀၅၂၈

(ဃ) **နေရပ်လိပ်စာ** အမ်အေစီတာဝါ(၂)၊ အမှတ်(၇၉၇)၊ အခန်းအမှတ်-ဘီ(၁၀၁)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ဝါးတန်းလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ် ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်သည့် လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်-၁၄၅(ခ)နှင့် ၁၄၆(က) ရှိ မြေ (၁.၀၈၀)ဧကအနက် (၀.၅၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၇၂၈.၆၄ သန်း (အမေရိကန်ဒေါ်လာ ၀.၆၈သန်း အပါအဝင် စုစုပေါင်းကျပ် ခုနှစ်ရာနှစ်ဆယ့်ရှစ်သန်းနှင့် ခြောက်သိန်း လေးသောင်းခန့်)

၁၁/၁၁

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၉၅ /၂၀၁၅(မနသ)
၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ် ကုမ္ပဏီလီမိတက်)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်-၁၄၅(ခ)နှင့် ၁၄၆(က) ရှိ မြေ (၁.၀၈၀)ဧကအနက် (၀.၅၈)ဧကတွင် အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၃-၁၀-၂၀၁၅) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၈/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်)အား အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်သည့် လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၉၇/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ် ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က)ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ဋ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၈။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) မှ ဆေးဝါးများ စတင်ထုတ်လုပ်သည့်အခါ ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါး ကွပ်ကဲရေးဦးစီးဌာနသို့ ဆက်သွယ်၍ ဆေးဝါးထုတ်လုပ်နေစဉ် ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ်(Good Manufacturing Practice - GMP)နှင့် ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးခံရမည်ဖြစ်ပြီး အမျိုးသားဆေးဝါးဥပဒေဖြင့် ထုတ်ပြန်ထားသည့် ပြဋ္ဌာန်းပါအချက်အလက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၃။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သောနာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃/ မ-၁၃၆၀/၂၀၁၅(၁၅၅၆-၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ကျန်းမာရေးဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
ပဂါမှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Progress Biochem Company Limited (ပရိုဂရက်(စ်) ဘိုင်အိုကမ် ကုမ္ပဏီလီမိတက်)

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့

## မြေပြင်ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာ

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

**လုပ်ငန်းနှင့် ပတ်သက်သည့် ဖော်ပြချက်**

၁။ **လုပ်ငန်း**

(က) ကုမ္ပဏီအမည်။ Progress Biochem Co., Ltd

(ခ) လုပ်ငန်းအမျိုးအစား။ အနောက်တိုင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း

(ဂ) လုပ်ငန်းတည်နေရာ။ မြေကွက်အမှတ်-၁၄၅-ခ၊ ၁၄၆-က၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဃ) လုပ်ငန်းစတင်သည့်နေရက်။ **အဆိုပြုလွှာစတင်တင်ပြခြင်း**

၂။ **ရင်းနှီးမြှုပ်နှံမှု အမျိုးအစား**

(က) နိုင်ငံခြား/ နိုင်ငံသား။ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(ခ) ရင်းနှီးမြှုပ်နှံမှုပမာဏ။ (ဒေါ်လာ) ၀.၈၂ သန်း
(ကျပ်) ၁၂၁ သန်း

**လုပ်ငန်းဆိုင်ရာတွေ့ရှိချက်**

၃။ **ကုန်ထုတ်လုပ်မှု**

(က) ကုန်ပစ္စည်းအမျိုးအစား။ အနောက်တိုင်းဆေးဝါးထုတ်လုပ်ရန်အဆိုပြုချက် တင်ပြခြင်း

(ခ) ထုတ်လုပ်မှုပမာဏ။ မရှိပါ။

(ဂ) ကုန်ကြမ်းပစ္စည်းတင်သွင်းမှု။ မရှိပါ။

(ဃ) စက်ကိရိယာတင်သွင်း
တပ်ဆင်အသုံးပြုမှု။ မရှိပါ။

(င) ကုန်ချောဖြန့်ဖြူးမှု။ မရှိပါ။

(စ) အသုံးပြုသည့်နည်းပညာ
ကောင်းမွန်မှု ရှိ/မရှိ မရှိပါ။

၄။ **ဝန်ဆောင်မှု**

(က) လုပ်ငန်းအမျိုးအစား။ မရှိပါ။

(ခ) လုပ်ငန်းအခြေအနေ။ အနောက်တိုင်းဆေးဝါးထုတ်လုပ်ရန် သင့်လျော်ခြင်း ရှိ/မရှိ အခြေအနေအား မြေပြင်တွင်ကွင်းဆင်းစစ်ဆေးခြင်း

၅။ **အဆောက်အအုံဆိုင်ရာတွေ့ရှိချက်**

(က) တည်ဆောက်ပြီးအဆောက်အဦနှင့် အတိုင်းအတာ။ ၁၆၀ ပေ × ၁၅၈ ပေ မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံဖြစ်ကြောင်း တွေ့ရှိရပါသည်။ သို့သော် အဆိုပါ အဆောက်အအုံသည် သီးခြားဆောက်လုပ်ထားသော အဆောက်အအုံ မဟုတ်ဘဲ၊ တစ်ဖက် မြေကွက် ပေါ်တွင် ရှိသော အဆောက်အအုံ အခြမ်းနှင့် ဆက်စပ်တွဲလျက်တည်ရှိနေကြောင်း တွေ့ရှိရပါသည်။ နောက်ဆက်တွဲ (က)

(ခ) တည်ဆောက်ဆဲ အဆောက်အဦနှင့် အတိုင်းအတာ။ အသစ်ဆောက်လုပ်ရန်အဆိုပြု တင်ပြထားပါသည်။

(ဂ) သတ်မှတ်စံချိန်စံညွှန်း မီ/မမီ။ ယခု ဆောက်လုပ်ပြီးအဆောက်အအုံသည် ဂိုဒေါင်ပုံစံ Hall type ဖြစ်ပြီး ပစ္စည်းသိုလှောင်ရန် ရည်ရွယ်ဆောက်လုပ်ထားခြင်းသာ ဖြစ်ပါသည်။ ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် ဖြစ်ပါက အဆောက်အအုံအား အကြီးစားပြင်ဆင်ခြင်းသို့မဟုတ် အသစ်ပြုပြင် တည်ဆောက်ခြင်း ဆောင်ရွက်မှသာ ဆေးဝါးပစ္စည်းများထုတ်လုပ်နိုင်မည့် အဆင့်မီ အဆောက်အအုံ တစ်ခုအဖြစ် သတ်မှတ်နိုင်မည် ဖြစ်ပါသည်။

(ဃ) သတ်မှတ်ချိန်အတွင်း ပြီး/ မပြီး။ အဆိုပြုအဆင့်

**လုပ်သားခန့်ထားမှု**

၆။ **ပြည်တွင်းလုပ်သား**

(က) ကျွမ်းကျင်လုပ်သားအရေအတွက်။ ၈၀ ဦးခန့်ထားရန် အဆိုပြုတင်ပြထားပါသည်။

(ခ) သာမန်လုပ်သားအရေအတွက်။ မရှိပါ။

(ဂ) အုပ်ချုပ်မှုဆိုင်ရာဝန်ထမ်းခန့်ထားမှု။ မရှိပါ။

(ဃ) လုပ်ခလစာ အခြေအနေ။ တင်ပြရန်မရှိပါ။

(င) လုပ်ငန်းခွင်သက်သာချောင်ချိမှု ရှိ/မရှိ။ တင်ပြရန်မရှိပါ။

(စ) သက်သာချောင်ချိရေးဆောင်ရွက်ပေးမှု။ တင်ပြရန်မရှိပါ။

(ဆ) ကျန်းမာရေးစောင့်ရှောက်မှု။ တင်ပြရန်မရှိပါ။

(ဇ) လုပ်သားများဘေးအန္တရာယ်ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု။ တင်ပြရန်မရှိပါ။

(ဈ) ကျွမ်းကျင်မှုသင်တန်းများဖွင့်လှစ် ဆောင်ရွက်မှု။ တင်ပြရန်မရှိပါ။

၇။ **နိုင်ငံခြားသား**

(က) ခန့်ထားသည့်တာဝန်နှင့် အရေအတွက်။ မရှိပါ။

(ခ) အဆိုပြုချက်ပါခန့်ထားမည့်အရေအတွက်။ မရှိပါ။

(ဂ) ရာထူးအလိုက်အရေအတွက်နှင့် လစာနှုန်းထား တင်ပြရန် မရှိပါ။

သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေး ဆောင်ရွက်မှု

၈။ ဆန်းစစ်ချက်များ ဆောင်ရွက်မှု

(က) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ဆောင်ရွက်မှု ရှိ/ မရှိ။ လုပ်ငန်း မစတင်မီ သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ချက်များ ဆောင်ရွက်ရမည် ဖြစ်ပါသည်။

(ခ) ဆောင်ရွက်ပါက တွေ့ရှိချက်အပေါ် လိုက်နာမှု ရှိ/မရှိ။ တင်ပြရန်မရှိပါ။

(ဂ) ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု စစ်ဆေးချက် ဆောင်ရွက်မှု ရှိ/မရှိ။ လုပ်ငန်းစတင်ရန် အဆိုပြုလွှာတင်ပြခြင်းဖြစ်၍ ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု စစ်ဆေးချက်များ စတင်ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။ အနောက်တိုင်းဆေးဝါး ထုတ်လုပ်သည့် စက်ရုံများ လိုက်နာဆောင်ရွက်ရမည့် GMP စနစ်နှင့် အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။ လှိုင်သာယာစက်မှုဇုန်တွင် လုပ်ငန်းတည်ဆောက်ရန် တားမြစ်သော လုပ်ငန်းများမှာ အရက်၊ ဘီယာချက်များထုတ်လုပ်ခြင်းလုပ်ငန်းနှင့် လျှပ်စစ်ဓာတ်အား ပမာဏများစွာ အသုံးပြုသော လုပ်ငန်းများကို မူအားဖြင့် တားမြစ်သည့် လုပ်ငန်းအဖြစ် ကန့်သတ်ချက် ထားရှိကြောင်း သိရှိ ရပါသည်။ ယင်းစက်မှုဇုန်တွင် အနောက်တိုင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းသည် ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ ဆေးဝါးထုတ်လုပ်ရန် အဆင့်မီ စက်ရုံ တည်ဆောက်ပြုပြင်၊ ထုတ်လုပ်မည်ဆိုပါကပတ်ဝန်းကျင်တွင်ရှိသော လုပ်ငန်းများမှ လည်းကောင်း၊ ပတ်ဝန်းကျင်ရှိ လုပ်ငန်းများသို့လည်းကောင်း၊ ပတ်ဝန်းကျင်ဆိုင်ရာ ဆိုးကျိုးများ မသက်ရောက် နိုင်ကြောင်း သုံးသပ် တင်ပြအပ်ပါသည်။

(ဃ) ဆောင်ရွက်ပါက တွေ့ရှိချက် အပေါ် လိုက်နာမှု ရှိ/မရှိ။ တင်ပြရန်မရှိပါ။

၉။ လုပ်ငန်းဆောင်ရွက်မှု

(က) ရေသန့်စနစ်ဆောင်ရွက်ထားရှိမှု။ တင်ပြရန်မရှိပါ။

(ခ) ရေဆိုးစွန့်ထုတ်မည့် အစီအစဉ်။ တင်ပြရန်မရှိပါ။

(ဂ) အညစ်အကြေး၊ အမှိုက်စွန့်ပစ်ရန် စီစဉ်ဆောင်ရွက်မှု။ တင်ပြရန်မရှိပါ။

(ဃ) ဓာတုပစ္စည်းများ သိုလှောင်ထိန်းသိမ်းမှု။ တင်ပြရန်မရှိပါ။

(င) မီးဘေးလုံခြုံရေးဆောင်ရွက်ထားရှိမှု။ တင်ပြရန်မရှိပါ။

အထွေထွေ

၁၀။ မြေနှင့် အဆောက်အဦ ဆိုင်ရာ ကိစ္စများအပေါ် အခြားတွေ့ရှိချက်များ။ လှိုင်သာယာ ကျက်မှု ဇုန်တွင် အနောက်တိုင်းဆေးဝါး ထုတ်လုပ်သည့်လုပ်ငန်း ဆောင်ရွက်ရန် ခွင့်ပြုထားသော်လည်း ဆေးဝါးစက်ရုံများတွင် လိုက်နာဆောင်ရွက်ရမည့် ပုံစံများအတိုင်း စနစ်တကျ ပြင်ဆင်ရန် လိုအပ်ပါသည်။ ယခု အဆောက်အဦပုံစံအတိုင်း ဖြစ်ပါက သို့မဟုတ် ပြင်ဆင်မှု အနည်းငယ်သာ ပြုလုပ်ခြင်းဖြင့် လုပ်ငန်းစတင်မည်ဆိုပါက၊ ဆေးဝါးထုတ်လုပ်နိုင်ရန်အတွက် သင့်လျော်သည့် အခြေအနေမရှိသေးကြောင်း သုံးသပ်တင်ပြအပ်ပါသည်။

၁၁။ လုပ်ငန်းအပေါ်အခြားတွေ့ရှိချက်များ။ တင်ပြရန်မရှိပါ။

၁၂။ လုပ်သားခန့်ထားမှုအပေါ်အခြားတွေ့ရှိချက်များ။ တင်ပြရန်မရှိပါ။

၁၃။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအပေါ် အခြားတွေ့ရှိချက်များ။ အနောက်တိုင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းကို အဆိုပြုတင်ပြခြင်းဖြစ်၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ဆက်စပ်သော ဓာတုပစ္စည်းများထိန်းသိမ်းသိုလှောင်ထားရှိမှု၊ စီမံခန့်ခွဲမှုများကို စနစ်တကျ လုပ်ဆောင် သွားရန် လိုအပ်ကြောင်း သုံးသပ်တင်ပြအပ်ပါသည်။

စစ်ဆေးသူ (အဖွဲ့ခေါင်းဆောင်)

လက်မှတ်
အမည်၊ ဦးမျိုးမင်း
ရာထူး၊ ညွှန်ကြားရေးမှူး
ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန

**အဖွဲ့ဝင်များ**

| | | |
|---|---|---|
| လက်မှတ်၊ | လက်မှတ်၊ | လက်မှတ်၊ |
| အမည်၊ ဒေါက်တာခင်နှင်းအေး | အမည်၊ ဒေါက်တာခင်မောင်ဦး | အမည်၊ ဒေါက်တာတင်ဝါဝါဝင်း |
| ရာထူး၊ ဌာနခွဲမှူး | ရာထူး၊ အတွင်းရေးမှူး | ရာထူး၊ ဒု ညွှန်ကြားရေးမှူး |
| ဌာန၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ | ဌာန၊ လှိုင်သာယာစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ | ဌာန၊ ကျန်းမာရေးဦးစီးဌာန |

လက်မှတ်၊

အမည်၊ ဒေါ်အေးသီတာထွန်း

ရာထူး၊ လက်ထောက်

အထွေထွေမန်နေဂျာ

ဌာန၊ အမှတ်-၁ ဆေးဝါးစက်ရုံ၊

ဆေးဝါးနှင့် စားသောက်

ကုန်လုပ်ငန်း

လက်မှတ်၊

အမည်၊ ဦးမျိုးတင့်အောင်

ရာထူး၊ ဦးစီးအရာရှိ

ဌာန၊ အလုပ်သမားညွှန်ကြားမှု

ဦးစီးဌာန

လက်မှတ်၊

အမည်၊ ဒေါ်အေးမင်းစန်း

ရာထူး၊ ဦးစီးအရာရှိ

ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်

ကုမ္ပဏီများ ညွှန်ကြားမှု

ဦးစီးဌာန

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
# မြေပြင်ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၇ ရက်

**နိဒါန်း**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ယာယီခွင့်ပြုမိန့် ၀၀၇/၂၀၁၃(၂၇-၁၂-၂၀၁၃)ဖြင့် ဆောင်ရွက်လျက်ရှိသော Progress Biochem Company Limited ၏ အနောက်တိုင်းအိမ်သုံး ဆေးဝါးထုတ်လုပ်သည့် စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေကို စစ်ဆေးရန်အတွက် မြေပြင် ကွင်းဆင်းစစ်ဆေးရေး အဖွဲ့သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၁)၊ ပန်းတည်းဝန် ဦးရွှေဘင်လမ်း၊ အမှတ် ၁၄၅(ခ) နှင့် ၁၄၆(က)သို့ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက် နေ့တွင် သွားရောက်၍ ကွင်းဆင်းစစ်ဆေးမှုများပြုလုပ်ခဲ့ပါသည်။

**ရည်ရွယ်ချက်**

၂။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့အနေဖြင့် အောက်ပါအချက် အလက်များပေါ် အခြေခံ၍စစ် ဆေးမှုများ ပြုလုပ်ခဲ့ပါသည်-

(က) တည်ဆောက်ပြီးစီးမှု အခြေအနေ။

(ခ) ပြည်တွင်း၊ ပြည်ပ ဝန်ထမ်းခန့်ထားမှု အခြေအနေ။

(ဂ) စက်ပစ္စည်း တပ်ဆင်ထားမှု အခြေအနေ။

(ဃ) ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး ဆောင်ရွက်ထားရှိမှု။

(င) အဆိုပြုချက်၊ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်ပါ ကတိကဝတ် သတ်မှတ်ချက် များအတိုင်း လိုက်နာဆောင်ရွက်မှု။

(စ) အခြားလိုအပ်သော အချက်များကိုပါ ထည့်သွင်းစစ်ဆေးရန်။

**စစ်ဆေးရေးအဖွဲ့**

၃။ စစ်ဆေးရေးအဖွဲ့ဝင်များမှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ဒေါ်စန်းစန်းမြင့် | ညွှန်ကြားရေးမှူး | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ ခေါင်းဆောင် |
| (ခ) | ဦးမျိုးလွင် | ညွှန်ကြားရေးမှူး | ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန | အဖွဲ့ဝင် |

| | | | | |
|---|---|---|---|---|
| (ဂ) | ဦးသိန်းဆွေ | ဒုတိယ ညွှန်ကြားရေးမှူး | စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင် |
| (ဃ) | ဒေါ်အေးသီတာထွန်း | လက်ထောက် စက်ရုံမှူး | မြန်မာ့ဆေးဝါးလုပ်ငန်း | အဖွဲ့ဝင် |
| (င) | ဦးကျော်စိုးလင်း | လက်ထောက် ညွှန်ကြားရေးမှူး | ပြည်တွင်းအခွန်များ ဦးစီးဌာန | အဖွဲ့ဝင် |
| (စ) | ဒေါ်မေသန့်ဇင် | လက်ထောက် ညွှန်ကြားရေးမှူး (မြို့ပြ) | လမ်းဦးစီးဌာန | အဖွဲ့ဝင် |
| (ဆ) | ဒေါ်အေးမြမြဝင်း | ဦးစီးအရာရှိ (ဆေးဝါး) | အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန | အဖွဲ့ဝင် |
| (ဇ) | ဒေါ်စန္ဒာမြင့် | ဦးစီးအရာရှိ | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ဝင် |
| (ဈ) | ဦးသိန်းကိုကို | ဦးစီးအရာရှိ | အလုပ်ရုံ စစ်ဆေးရေး လှိုင်သာယာစက်မှုဇုန်ရုံး | အဖွဲ့ဝင် |
| (ည) | ဦးကျော်ကျော်ခိုင် | ဒုတိယဦးစီးမှူး | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ဝင် |

**စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိချက်များ**

၄။ စစ်ဆေးရေးအဖွဲ့မှ Progress Biochem Company Limited ၏ စက်ရုံ တည်ဆောက် ပြီးစီးမှု အခြေအနေအပေါ် သွားရောက်စစ်ဆေးရာတွင် အောက်ပါအတိုင်း စစ်ဆေးတွေ့ရှိ ခဲ့ပါသည်-

(က) စက်ရုံအဆောက်အဦ (၃)လုံးသည် ကောင်းမွန်ခိုင်ခန့်စွာ စနစ်တကျဆောက်လုပ်ထားကြောင်း တွေ့ရှိရပြီး စက်ရုံတည်ဆောက်မှု (၁၀၀%)ပြီးစီးပြီး ဖြစ်ပါသည်။ ကုန်ထုတ်လုပ်မှုဧရိယာ (Clean Area)တွင် Walling, Ceiling တို့အား Flush Honey comb Composite Board များ တပ်ဆင်တည်ဆောက်ခြင်း၊ Floor မှာ Epoxy Floor ခင်းခြင်း၊ ကုန်ထုတ်လုပ်မှုစက် Bottle Filling, Sealing & Capping Machine (1) unit (Capacity: 60 bots/ min, Country of Origin: Taiwan)နှင့် အရည်အသွေးစိစစ်ရေး စက်များ တပ်ဆင်ထားခြင်း၊ HVAC

System (Chiller (3) units, AHU (3)units, MAU(1) unit & clean room Accessories) တပ်ဆင်ထားပြီး ကုန်ထုတ်လုပ်မှု ဧရိယာအလိုက် AHU များအား သီးခြားတပ်ဆင်ခြင်း၊ ကုန်ကြမ်း/ကုန်ချောသိုလှောင် ရုံများတွင် လည်း သီးခြား Air Conditioning Unit များတပ်ဆင်ထားခြင်းနှင့် Utility Machinery များတပ်ဆင်ထားခြင်း၊ အဆိုပါတပ် ဆင်ထားသော စက်များအားလုံး စက်စမ်းသပ် လည်ပတ်ထားခြင်းတို့ကို တွေ့ရှိရကြောင်း၊ တရုတ်နိုင်ငံမှ ဆေးရည် ဖျော်စက် 500 Litre နှင့် 800 Litre စက်များ တပ်ဆင်၍ လုပ်ငန်းဆောင်ရွက်ရန်အဆင်သင့်ရှိပြီး စက်တစ်လုံးမှာပြည့်စုံစွာ တပ်ဆင်ရန် ဆောင်ရွက်ဆဲဖြစ်ကြောင်း၊

(ခ) စက်ရုံသည် ဆေးဝါးထုတ်လုပ်သည့် စက်ရုံဖြစ်သည့်အတွက် ဆေးဝါးထုတ်လုပ်ရေး အခန်းများတွင် ကျွမ်းကျင်ဝန်ထမ်း (၂)ဦး စီဖြင့် လုပ်ကိုင်မည် ဖြစ်သည့်အတွက် ဝန်ထမ်းစုစုပေါင်း (၁၀)ဦး ဖြစ် ပါကြောင်း သက်သာချောင်ချိရေး ဆောင်ရွက် ပေးမှုမှာ စက်ရုံမှ အလုပ်သမားများအား နေ့လည်စာကျွေးမွေးခြင်း၊ ကြို/ပို့ ယာဉ်များ စီစဉ်ပေးခြင်း၊ အဆောင်စီစဉ်ပေးခြင်းများ ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(ဂ) လျှပ်စစ်ဓါတ်အားရရှိမှုအပိုင်းတွင် လျှပ်စစ် ဓါတ်အား အပြည့်အဝမရရှိသဖြင့် 11 KVA မှ 32 KVA ထိတပ်ဆင်ပြီး အသုံးပြုမှသာ အဆင်ပြေမည်ဖြစ်၍ 32 KVA တပ်ဆင်ဆောင်ရွက် လျှက်ရှိ ပါသည်။

(ဃ) တစ်နှစ်လျှင် ဆေးရည် ၁၄၄ တန် ထုတ်လုပ်မည်ဖြစ်၍ တစ်နှစ်လျှင် ထုတ်လုပ်မှုတန် (၅၀) နှင့် အထက်ဖြစ်ပါသဖြင့် Environmental Impact Accessment – EIA) တင်ပြရန် လိုအပ်ပါသည်။

(င) ကျွမ်းကျင်ဝန်ထမ်း အရေအတွက် ကျား(၂)ဦး၊ မ(၁၀)ဦး၊ နှင့် သာမန်ဝန်ထမ်း အရေအတွက် ကျား(၉)ဦး၊ မ(၁)ဦး၊ စုစုပေါင်း (၂၂)ဦး ခန့်ထားပြီး ဖြစ် ပါသည်။ အုပ်ချုပ်မှုဆိုင်ရာ ဝန်ထမ်းခန့်ထားမှုမှာ မရှိသေးသည်ကို တွေ့ရှိရပါသည်။ လုပ်ခလစာ အခြေအနေမှာ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ (၁၁၀,၀၀၀/-)ကျပ်ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာ (၅၀၀,၀၀၀/-)ကျပ် ဖြစ်ကြောင်း၊ စက်ရုံတွင် နိုင်ငံခြားသားဝန်ထမ်းခန့်ထားမှု မရှိ သေးပါ။

(စ) ကျန်းမာရေးစောင့်ရှောက်မှု အနေဖြင့် စက်ရုံမှ အလုပ်သမားများအား ကျန်းမာရေး စောင့်ရှောက်မှုများ ပေးမည်ဖြစ်ပြီး အလုပ်သမားများအတွက် လူမှုဖူလုံရေး ထည့်ဝင်ကြေးများကိုပါ ထည့်ဝင်သွားမည်ဖြစ်ပါသည်။

(ဆ) လုပ်သားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သမားများအား ကိုယ်ခန္ဓာအကာအကွယ်သုံး ဝတ်စုံများ၊ Personal Protective

Equipment (PPE) များ ဝတ်ဆင်လုပ်ကိုင်စေမည် ဖြစ်ပါကြောင်း၊ စက်ရုံ၏ ဓါတ်ခွဲခန်းတွင် ဓာတုဗေဒပစ္စည်းများ အန္တရာယ်ကင်းရှင်းရေး လမ်းညွှန်ချက် (Chemical Safety Data Sheet)အား ကပ်ထားသည်ကို တွေ့ရှိရပါကြောင်း၊ ၎င်းဓါတ်ခွဲခန်းတွင် ဓါတုဗေဒပစ္စည်းများ မျက်လုံးအတွင်းသို့ ဝင်ပါက အရေးပေါ် ဆေးကြောနိုင်သော Eye Wash Fountain (မျက်စိဆေး ကြောသောနေရာ) ထားရှိထားသည်ကို တွေ့ရှိရပါကြောင်း။

(ဇ) စက်ရုံတည်ဆောက်မှု ပြီးစီးသော်လည်း ဆေးဝါးထုတ်လုပ်ရန် Cleaning Procedure နှင့် Fumigation Process များ ဆောင်ရွက်ရန် ကျန်ရှိခြင်း၊ ဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်း စတင်ဆောင်ရွက်ခြင်း မရှိသေးဘဲ Laboratory Scale များသာ စမ်းသပ်ထုတ်လုပ်ထားကြောင်း တွေ့ရှိရပါကြောင်း။

(ဈ) အခန်းတိုင်းတွင် "Label" များ တပ်ဆင်ရန်၊ Production area တွင် Temperature, Pressure & Humid Monitoring System များ တပ်ဆင်ရန်၊ ကုန်ကြမ်းနှင့် ကုန်ချောသိုလှောင်ရုံတွင် သာမိုမီတာနှင့် အပူချိန် မှတ်တမ်းများ ထားရှိရန်လိုအပ်ကြောင်း တွေ့ရှိရပါကြောင်း။

သုံးသပ်တင်ပြချက်

၅။ Progress Biochem Company Limited ၏ စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်သုံးသပ်ရရှိပါသည်-

(က) Phase I အနေဖြင့် သောက်ဆေးရည်(၃)မျိုး(Paracetamol Suspension, Paracetamol Syrup, Multivitamin Syrup) ထုတ်လုပ်မည်ဖြစ်ကြောင်း။

(ခ) Clean Area နှင့် Unclassified Area တို့အကြားတွင် Air Flow မှန်ကန်စေရေး၊ Clean Areaများတွင် Temperature, Humidity, Pressure differentials Monitoring ပြုလုပ်နိုင်ရန်အတွက် စီမံ ဆောင်ရွက်ပေးရန်၊ မိုးရွာပါက အဆောက်အဦများ၏ ရေတလျှောက်များအား ပြန်လည် ပြုပြင်ပေးရန်၊ ကုန်ထုတ်စက်များတွင် ဆေးရည် နှင့် တိုက်ရိုက်ထိတွေ့သော နေရာများ (Mixing Tank, Transfer Pump & Piping) တွင် အသုံးပြုသော Stainless Steel များမှာ SS 316 ဖြစ်ရန် လိုအပ်ကြောင်း။

(ဂ) ဝန်ထမ်းများတွင် Pharmaceutical လုပ်ငန်း ကျွမ်းကျင်သူများပါဝင်ပြီး ယခင် BPI (မြန်မာ့ဆေးဝါးစက်ရုံ)တွင် တာဝန်ထမ်းဆောင်ခဲ့သည့် အငြိမ်းစားဝန်ထမ်းများ ဖြစ်ကြောင်းနှင့်ဝန်ထမ်းများအားပြည်ပမှဆေးဝါးကျွမ်းကျင် အကြံပေးများဖြင့် သင်တန်းပေး လေ့ကျင့်ဆောင်ရွက် မည်ဖြစ်ကြောင်း။

(ဃ) စက်ယန္တရားများအားလည်း ထိုင်ဝမ်ထုတ် ခေတ်မီ စက်များဖြင့် ဆေးထုတ်လုပ် ရန် စီစဉ်ထားရှိပြီး နောင်တွင် Tablet အဆင့်ထိတိုးမြှင့် ထုတ်လုပ်သွားမည် ဖြစ်ကြောင်း။

(င) ဘွိုင်လာ စစ်ဆေး၍တပ်ဆင်ပြီးပါက လိုင်စင်ထုတ်ပေးမည်ဖြစ်ပါကြောင်း၊ မီးစက်အား လုပ်ငန်းခွင်လိုင်စင် လျှောက်ထားရန်နှင့် စီးပွားဖြစ်စတင် လည်ပတ် ထုတ်လုပ်ပါက စက်မှုမှတ်ပုံတင်လျှောက်ထားရန် လိုအပ်ကြောင်း။

(စ) Finished Warehouse နှင့် Raw Material Warehouse တို့တွင် အရေးပေါ်အခြေ အနေများနှင့် တွေ့ကြုံပါက စနစ်တကျ ထွက်နိုင်ရန်အတွက် အရေးပေါ် ထွက်ပေါက် သွားလမ်းများ သတ်မှတ်ထားရန်၊ ၎င်းအရေးပေါ် ထွက်ပေါက် သွားလမ်းများ၏ Warehouse များ ကြမ်းပြင်များတွင် သုတ်ဆေးဖြင့် လိုင်းသားပြီး လမ်းညွှန်သင်္ကေတများ သတ်မှတ်ထားရှိရန် ၊ ထို့ပြင် အရေးပေါ် ထွက် ပေါက်များတွင် "Exit" စာတမ်း ကပ်ထားရန် လိုအပ်ကြောင်းနှင့် စက်ရုံတွင် Emergency Layout Plan ထားရှိရန် လိုအပ်ကြောင်း။

(ဆ) စက်ရုံတွင် မီးသတ်ဆေးဗူးများ ထားရှိရန် ။

(ဇ) စက်ရုံတွင် မီးလောင်လွယ်သည့် ပစ္စည်းများ (Combustible Material) များအား အခန်းသီးသန့် ကာရံထားရှိရန် လိုအပ်ကြောင်း။

(ဈ) Cleaning Procedure နှင့် Fumigation Process များနှင့် အထက်ပါ လိုအပ်ချက်များဖြည့်ဆည်း ဆောင်ရွက်ပြီးစီး ပါက ဆေးဝါးထုတ်လုပ်ရန် စတင်နိုင်ပြီး အစားအသောက်နှင့် ဆေးဝါးကွပ်ကဲ ရေးဦးစီးဌာနမှ ဆေးဝါးထုတ်လုပ်နေစဉ် ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ် GMP နှင့် ကိုက်ညီမှု ရှိ/မရှိ ကို ကွင်း ဆင်းစစ်ဆေးမည်ဖြစ်ကြောင်း။

(ည) ဘဏ္ဍာရေးပိုင်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် Stakeholder (၃) ဦးဖြင့် ဆောင်ရွက်လျက်ရှိပြီး စာရင်းဇယားများ Import-Machine များ Material များ Raw များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ကင်းလွတ်ခွင့်အရ တင်သွင်းမှု အပေါ်စာရင်း ဇယားများထားရှိရန် အခွန်ငွေ နှင့်ပတ်သက်၍ အစစ်ခံရန် စာရင်း စနစ်တကျ ထားရှိရန် လမ်းညွှန်ခဲ့ပါသည်။

(၄) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ တွေ့ရှိလမ်းညွှန်ချက်များ နှင့် လိုအပ်ချက်များကို ကုမ္ပဏီမှဆောင်ရွက်ပြီးစီးကြောင်း ပြန်လည်တင်ပြပြီးဖြစ်ပါသည်။

(၅) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ယာယီခွင့်ပြုမိန့် အမှတ်၊မနသ-၀၀၇/၂၀၁၃ (၂၄-၁၂-၂၀၁၃) ပါ ရင်းနှီးမြှုပ်နှံသူ၏ ကတိဝန်ခံချက် အပိုဒ် (၁)တွင်ပါရှိသည့်

စက်ရုံတည်ဆောက်ပြီးစီးပြီး ဆေးဝါးထုတ်လုပ်ရန် အဆင်သင့်ဖြစ်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သတင်းပို့ပြီး ကော်မရှင်မှ ကွင်းဆင်းစစ်ဆေးပြီး သတ်မှတ်ထားသည့် စည်းမျဉ်း၊ စည်းကမ်းများသိရှိပါ၍ တင်ပြလာခြင်းဖြစ်ပါသည်။

၇.၁၀.၂၀၁၇

(စန်းစန်းမြင့်)

ညွှန်ကြားရေးမှူး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက- ၃/မ-၁၃၆၀/၂၀၁၅(၁၄၀၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၉ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **Progress Biochem Company Limited ၏ အနောက်တိုင်း အိမ်သုံးဆေးဝါး စက်ရုံအား ကွင်းဆင်းစစ်ဆေးသည့် အစီရင်ခံစာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ယာယီခွင့်ပြုမိန့် ၀၀၇/၂၀၁၃(၂၇-၁၂-၂၀၁၃) ဖြင့် ဆောင်ရွက်လျက်ရှိသော Progress Biochem Company Limited ၏ အနောက်တိုင်းအိမ်သုံးဆေးဝါးထုတ်လုပ်သည့် စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေကို ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂)မှ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့် ဦးဆောင်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ စက်မှုကြီးကြပ်ရေး နှင့်စစ်ဆေးရေးဦးစီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း၊ ပြည်တွင်းအခွန်များဦးစီးဌာန၊ လမ်းဦးစီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာနတို့မှ အဖွဲ့ဝင်များပါဝင်သည့် အဖွဲ့သည် ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်နေ့၌ လုပ်ငန်းတည်ရှိရာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ် ၁၄၅(ခ) နှင့် ၁၄၆(က) သို့ သွားရောက်၍ ကွင်းဆင်းစစ်ဆေးမှု ပြုလုပ်ခဲ့ပါသည်။ ကွင်းဆင်းစစ်ဆေးမှုပြုလုပ်ခဲ့ပြီး စစ်ဆေးတွေ့ရှိချက် အစီရင်ခံစာကို နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြအပ်ပါသည်။

**စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိချက်များ**

၂။ စက်ရုံအား ကွင်းဆင်းစစ်ဆေးရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) စက်ရုံအဆောက်အဦ (၃)လုံးသည် ကောင်းမွန်ခိုင်ခံ့စွာ စနစ်တကျ ဆောက်လုပ်ထားကြောင်း တွေ့ရှိရပြီး စက်ရုံတည်ဆောက်မှု (၁၀၀%)ပြီးစီးပြီး တပ်ဆင်ထားသော စက်များအားလုံး စက်စမ်းသပ်လည်ပတ် ထားခြင်းတို့ကို တွေ့ရှိရပါသည်။ တရုတ်နိုင်ငံမှ ဆေးရည်ဖျော်စက် 500 Litre နှင့် 800 Liter စက်များ တပ်ဆင်၍ လုပ်ငန်းဆောင်ရွက်ရန် အဆင်သင့်ရှိပြီး စက်တစ်လုံးမှာ ပြည့်စုံစွာ တပ်ဆင်ရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။

(ခ) တစ်နှစ်လျှင် ဆေးရည် ၁၄၄ တန် ထုတ်လုပ်မည်ဖြစ်၍ တစ်နှစ်လျှင် ထုတ်လုပ်မှု တန်(၅၀)နှင့် အထက်ဖြစ်ပါသဖြင့် (Environmental Impact Accessment-EIA) တင်ပြရန်လိုအပ်ပါသည်။

ကန်သတ်

(ဂ) ဆေးဝါးထုတ်လုပ်သည့် စက်ရုံဖြစ်သည့်အတွက် ကျွမ်းကျင်ဝန်ထမ်း အရေအတွက် ကျား (၂)ဦး၊ မ (၁၀)ဦး နှင့် သာမန်ဝန်ထမ်း အရေအတွက် ကျား (၉) ဦး၊ မ(၁) ဦး၊ စုစုပေါင်း (၂၂) ဦး ခန့်ထားပြီး ဖြစ်ပါသည်။ အုပ်ချုပ်မှုဆိုင်ရာ ဝန်ထမ်းခန့်ထားမှုမှာ မရှိသေးသည်ကို တွေ့ရှိရပါသည်။ လုပ်ခလစာအခြေအနေမှာ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ၁၁၀,၀၀၀/- ကျပ် ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ၅၀၀,၀၀၀/- ကျပ် ဖြစ်ပါသည်။ စက်ရုံတွင် နိုင်ငံခြားသားဝန်ထမ်း ခန့်ထားမှု မရှိသေးပါ။

(ဃ) လုပ်သားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သမားများအား ကိုယ်ခန္ဓာအကာအကွယ်သုံး ဝတ်စုံများ၊ Personal Protective Equipment (PPE) များ ဝတ်ဆင်လုပ်ကိုင်စေမည်ဖြစ်ပါကြောင်း၊ ဓါတ်ခွဲခန်းတွင် (Chemical Safety Data Sheet) များ ကပ်ထားသည်ကို တွေ့ရှိရပါသည်။ ၎င်းဓါတ်ခွဲခန်းတွင် ဓါတုဗေဒပစ္စည်းများ မျက်လုံးအတွင်းသို့ ဝင်ပါက အရေးပေါ် ဆေးကြောနိုင်သော Eye Wash Fountain (မျက်စိဆေးကြောသောနေရာ) ထားရှိထားသည်ကို တွေ့ရှိရပါသည်။

(င) စက်ရုံတည်ဆောက်မှု ပြီးစီးသော်လည်း ဆေးဝါးထုတ်လုပ်ရန် Cleaning Procedure နှင့် Fumigation Process များ ဆောင်ရွက်ရန်ကျန်ရှိခြင်း၊ ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မရှိသေးဘဲ Laboratory Scale များသာ စမ်းသပ်ထုတ်လုပ်ထားသည်ကို တွေ့ရှိရပါသည်။

(စ) အခန်းတိုင်းတွင် "Label" များတပ်ဆင်ရန်၊ Production area တွင် Temperature Pressure & Humid Monitoring System များ တပ်ဆင်ရန်၊ ကုန်ကြမ်းနှင့် ကုန်ချော သိုလှောင်ရုံတွင် သာမိုမီတာနှင့် အပူချိန်မှတ်တမ်းများ ထားရှိရန် လိုအပ်ပါသည်။

**သုံးသပ်တင်ပြချက်**

၃။ စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်သုံးသပ်ရရှိပါသည်-

(က) Phase I အနေဖြင့် သောက်ဆေးရည် (၃)မျိုး (Paracetamol Suspension, Paracetamol Syrup, Multivitamin Syrup) ထုတ်လုပ်မည်ဖြစ်ပါသည်။

(ခ) ဝန်ထမ်းများတွင် Pharmaceutical လုပ်ငန်း ကျွမ်းကျင်သူများပါဝင်ပြီး ယခင် BPI (မြန်မာ့ဆေးဝါးစက်ရုံ)တွင် တာဝန်ထမ်းဆောင်ခဲ့သည့် ဝန်ထမ်းများအား ပြည်ပမှ ဆေးဝါးကျွမ်းကျင် အကြံပေးများဖြင့် သင်တန်းပေး စေလွှတ်ဆောင်ရွက်မည် ဖြစ်ကြောင်း။

(ဂ) စက်ယန္တရားများအားလည်း ထိုင်ဝမ်ထုတ်ခေတ်မီစက်များဖြင့် ဆေးထုတ်လုပ်ရန် စီစဉ်ထားရှိပြီးနောင်တွင် Tablet အဆင့်ထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း။

(ဃ) Finished Warehouse နှင့် Raw Material Warehouse တို့တွင် အရေးပေါ် အခြေ အနေများနှင့် တွေ့ကြုံပါက စနစ်တကျ ထွက်နိုင်ရန်အတွက် အရေးပေါ် ထွက်ပေါက် သွားလမ်းများ သတ်မှတ်ထားရန်၊ ၎င်းအရေးပေါ် ထွက်ပေါက် သွားလမ်းများ၏ Warehouse များ ကြမ်းပြင်များတွင် သုတ်ဆေးဖြင့် လိုင်းသားပြီး လမ်းညွှန်သင်္ကေတများ သတ်မှတ်ထားရှိရန်၊ ထို့ပြင် အရေးပေါ် ထွက်ပေါက်များ တွင် "Exit" စာတမ်း ကပ်ထားရန် လိုအပ်ကြောင်းနှင့် စက်ရုံတွင် Emergency Layout Plan ထားရှိရန် လိုအပ်ကြောင်း။

(င) စက်ရုံတွင် မီးသတ်ဆေးဗူးများ ထားရှိရန်။

(စ) စက်ရုံတွင် မီးလောင်လွယ်သည့် ပစ္စည်းများ (Combustible Material) များအား အခန်းသီးသန့် ကာရံထားရှိရန် လိုအပ်ကြောင်း။

(ဆ) Cleaning Procedure နှင့် Fumigation Process များနှင့် အထက်ပါ လိုအပ်ချက်များ ဖြည့်ဆည်း ဆောင်ရွက်ပြီးစီးပါက ဆေးဝါးထုတ်လုပ်ရန် စတင်ပြီး အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာနမှ ဆေးဝါးထုတ်လုပ်နေစဉ် ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ် GMP နှင့် ကိုက်ညီမှု ရှိ/မရှိ ကို ကွင်းဆင်းစစ်ဆေးမည်ဖြစ်ကြောင်း။

(ဇ) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ တွေ့ရှိလမ်းညွှန်ချက်များနှင့် လိုအပ်ချက်များကို ကုမ္ပဏီမှ ဆောင်ရွက်ပြီးစီး၍ ကော်မရှင်သို့ ပြန်လည်တင်ပြလာပြီးဖြစ်ကြောင်း။

(ဈ) Progress Biochem Company Limited မှ အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ရန် စက်များတပ်ဆင်ပြီးဖြစ်ပါ၍ ဆေးဝါးထုတ်လုပ် ရန်အတွက် ခွင့်ပြုမိန့်(မူရင်း) ထုတ်ပေးသင့်သည်ဟု စိစစ်သုံးသပ်ရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၄။ Progress Biochem Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ် ၁၄၅(ခ) နှင့် ၁၄၆(က)တွင် အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်(ယာယီ)ထုတ်ပေးခြင်းမှ ခွင့်ပြုမိန့်(မူရင်း)ကို ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

## Progress Biochem Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ စက်မှုမြို့တွင် အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Progress Biochem Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ခင်သန်းအေး(အဘ-ဦးဆိုင်ရာ ) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁) ၊ မြေကွက်အမှတ်(၁၄၅-ခ နှင့် ၁၄၆- က) ရှိ မြေ (၁.၀၈၀)ဧက အနက် (၀.၅၈) ဧက(၂၅၂၈၀ စတုရန်းပေ)တွင် စက်ရုံတည်ဆောက်၍ လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ | - **ကျပ် ၇၂၈.၆၄ သန်း (US$ ၀.၆၈ သန်းအပါအဝင်)** |
| | | ငွေသား — ကျပ် ၅၀.၀၀ သန်း |
| | | စက်ပစ္စည်း — ကျပ် ၄၂၇.၆၄ သန်း (US$ ၀.၄၈ သန်း) |
| | | အဆောက်အဦများ — ကျပ် ၄၀.၀၀ သန်း |
| | | ပရိဘောဂ — ကျပ် ၁.၀၀ သန်း |
| | | ကုန်ကြမ်းပစ္စည်းများ — ကျပ် ၂၁၀.၀၀ သန်း (US$ ၀.၂၀ သန်း အပါအဝင်) |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၁၀)နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - (၁)နှစ် နှင့် (၆)လ |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၄၂.၅၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၄၀.၄၀ သန်း |
| ၁၀။ | ရောင်းချမည့်နည်းစနစ် | - ထုတ်လုပ်သည့် ဆေးဝါးများအား ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ |
| ၁၁။ | လုပ်သားအင်အား | - ပြည်တွင်း (၈၀) ဦး |
| ၁၂။ | စိစစ်တွေ့ရှိချက် | - Progress Biochem Co., Ltd မှ အနောက်တိုင်းဆေးဝါးများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် စင်္ကာပူနိုင်ငံရှိ Malaysia Chemist(Pte) Ltd. နှင့် နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုးထားသည့် MOU အား တင်ပြထားပါသည်။ |

- အနောက်တိုင်း ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ကုမ္ပဏီမှ GMP Standard နှင့် အညီ အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပြီး GMP Certificate တင်ပြထားခြင်းမရှိပါ။
- အဆိုပြုကုမ္ပဏီနှင့် MOU ရေးထိုးထားသည့် စင်္ကာပူနိုင်ငံရှိ Malaysia Chemist (Pte) Ltd. ၏ (၁၀-၆-၂၀၁၃) ရက်စွဲဖြင့် ဆေးဝါးထုတ်လုပ်ခွင့် လိုင်စင်သာ တင်ပြထားပါသည်။
- ဆေးဝါးလုပ်ငန်းများ နှင့် စပ်လျဉ်း၍ ၂၃-၁၁-၂၀၁၁ နေ့ရက်တွင် ကျင်းပသော ကော်မရှင်၏ (၂၅/၂၀၁၁)ကြိမ်မြောက် အစည်းအဝေး မှ " ဆေးဝါးထုတ်လုပ်မှု ကိစ္စ နှင့် ပတ်သက်၍ မြေနေရာ ရွေးချယ်မှု၊ ရေသန့်ရှင်းမှုနှင့် လုံလောက်မှု၊ ပတ်ဝန်းကျင်ရှိ စက်ရုံများ အနေအထား၊ Brand အသိအမှတ်ပြု စမ်းသပ်ပြီးဆေးဝါးများ၊ ငွေကြေးခိုင်မာမှု၊ တရားဝင်ဘဏ်တွင် ဖော်ပြနိုင်မှု၊ စတင်ထုတ်လုပ်ရန် အသင့်ဖြစ်ပါက ကျန်းမာရေး ဝန်ကြီးဌာနတာဝန်ရှိအဖွဲ့အစည်းမှ အစစ်ဆေးခံရန်နှင့် လိုက်နာမှုမရှိက လုပ်ငန်း လုပ်ကိုင်ခွင့်အားရုပ်သိမ်းမည်ဟု စာချုပ်ချုပ်ဆိုထားရန်နှင့် အဆိုပါကိစ္စရပ် အလုံးစုံပြုလုပ်ပြီးပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးအဖွဲ့သို့ တင်ပြ၍ ခွင့်ပြုချက်ရယူသွားရန်" ဆုံးဖြတ်ခဲ့ပါသည်။
- ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်း နှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ကုမ္ပဏီ(၄)ခု အား ယာယီ ခွင့်ပြုမိန့်နှင့် Sagaing June Pharmaceutical & Foodstuff Industry Ltd အား ကော်မရှင်၏(၁၀/၂၀၁၃) (၁၃-၃-၂၀၁၃) ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၉၁/၂၀၁၃ (၁၃-၃-၂၀၁၃)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်-

(၁) Pacific Medical Industries Co., Ltd.

(၂) Fame Pharmaceutical Industry Co., Ltd.

(၃) Myanmar Golden Earth Co., Ltd.

(၄) Silver Shine International Co., Ltd.

(၅) Myanmar Organic Resources Industries Co., Ltd.

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၃၆၁/၂၀၁၃( ၂၆၉၇၃ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဒီဇင်ဘာလ ၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Progress Biochem Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့တွင် အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Progress Biochem Co., Ltd. သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ Progress Inter trade Co., Ltd. အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁) ၊ မြေကွက်အမှတ်(၁၄၅-ခ နှင့် ၁၄၆- က) ရှိ မြေ (၁.၀၈၀)ဧက အနက် (၀.၅၈) ဧက(၂၅၂၈၀ စတုရန်းပေ) တွင် အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်သန်းအေး(အဘ-ဦးဆိုင်ရာ )မှ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေသည် Progress Inter trade Co., Ltd. အမည်ပေါက်ဖြစ်ပါကြောင်း၊ Progress Inter trade Co., Ltd. နှင့် လုပ်ငန်းဆောင်ရွက်မည့် Progress Biochem Co., Ltd. တို့၏ အုပ်ချုပ်မှု ဒါရိုက်တာ နှင့် ဒါရိုက်တာ(၁)ဦးမှာ တူညီပါကြောင်း ၊ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာအား မေတ္တာဖြင့်အခမဲ့သုံးစွဲခွင့်ပြုမည်ကို ကုမ္ပဏီ(၂)ခုမှဒါရိုက်တာများမှ သဘောတူကြောင်း BOD ဆုံးဖြတ်ချက် တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်မှုကာလမှာ(၁)နှစ်နှင့်(၆)လဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ (၁၀)နှစ်ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$(၀.၆၈)သန်း အပါအဝင် စုစုပေါင်း ကျပ် (၇၂၈.၆၄)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော US$(၀.၄၈)သန်း တန်ဖိုးရှိ စက်ပစ္စည်းများနှင့် US$(၀.၂၀)သန်း တန်ဖိုးရှိ ကုန်ကြမ်းပစ္စည်းများအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၅၀.၀၀ သန်း |
| (ခ) | စက်ပစ္စည်း | ကျပ် | ၄၂၇.၆၄ သန်း (US$ ၀.၄၈ သန်း) |
| (ဂ) | အဆောက်အဦများ | ကျပ် | ၄၀.၀၀ သန်း |
| (ဃ) | ပရိဘောဂ | ကျပ် | ၁.၀၀ သန်း |
| (င) | ကုန်ကြမ်းပစ္စည်းများ | ကျပ် | ၂၁၀.၀၀ သန်း(US$ ၀.၂၀ သန်းအပါအဝင်) |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် | ၇၂၈.၆၄ သန်း (US$ ၀.၆၈ သန်းအပါအဝင်) |

ကန့်သတ်

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၈၀) ဦးခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် (၇၀,၀၀၀) ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ အနောက်တိုင်းဆေးဝါး (၃)မျိုး ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၇-နှစ်မြောက်)တွင် အနောက်တိုင်းဆေးဝါးထုတ်လုပ်နိုင်မှု နှင့် ပြည်တွင်းရောင်းဈေးနှုန်း အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှုအရေအတွက် | ပြည်တွင်းရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Lyprovite Children's Multivitamins Syrup (100 ml) | Bottle | 1200000 | 950 |
| (ခ) | Pacemol Suspension (100 ml) | Bottle | 1200000 | 700 |
| (ဂ) | Calamine Lotion (100 ml) | Bottle | 1200000 | 690 |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၇-နှစ်မြောက်)တွင် ဝင်ငွေကျပ် ၂၈၀၈.၀၀ သန်း ရရှိမည်ဖြစ်ပါသည်။

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၇-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၁၄၀.၄၀)သန်း နှင့် ဝင်ငွေခွန် ကျပ် (၄၂.၅၃)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏အရင်းကြေကာလမှာ (၆)နှစ်နှင့်(၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)မှာ (၁၄.၀၈)ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာန နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနများထံသို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

**(က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည်ဆိုပါက စုစုပေါင်းလုပ်သား(၈၀)ဦး အလုပ်အကိုင်ရရှိစေမည်ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာအား ဆေးဝါးစက်ရုံအတွက် သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(၄) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ ၏ (၄၂/၂၀၁၃) (၁၇-၁၀-၂၀၁၃) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ်(၆၀)အရ Progress Biochem Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) စက်ရုံအဆောက်အဦ ဆောက်လုပ်ရာတွင် လေဝင်လေထွက် ကောင်းမွန်ရေးနှင့် မီးလောင်မှု ဖြစ်ပွားပါက အသုံးပြုနိုင်မည့် အရေးပေါ် ထွက်ပေါက်များ နှင့် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်း တွက်ချက် တည်ဆောက်ရန် နှင့် စက်သုံးဆီ သိုလှောင်ရုံများ နှင့် ပေါက်ကွဲစေတတ်သော ဓာတု ပစ္စည်း သိုလှောင်ရုံများအား သီးခြားခွဲ၍ တည်ဆောက်ရန်၊

(၂) အဆိုပါ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်ဆီးမှုများကို ရှောင်ရှားနိုင်ရန် အတွက် စက်ရုံလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများ နှင့် ကုန်ထုတ်လုပ်မှု နည်းပညာများ အသုံးပြုရန်၊

(၃) စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်နှင့် အဆီများ စွန့်ပစ်ရန် လိုအပ်လာပါက စက်မှုဝန်ကြီးဌာန မှ ပြဋ္ဌာန်းထားသော စံချိန်၊ စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန် နှင့် စွန့်ပစ်အရည်/ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲထားရန်၊

(၄) ဆေးဝါးထုတ်လုပ်မှုတွင် မြန်မာနိုင်ငံကျန်းမာရေးဝန်ကြီးဌာနနှင့်ကမ္ဘာ့ကျန်းမာရေးအဖွဲ့(WHO)၏ ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ်များ (Good Manufacturing Practice-GMP) ကို အသုံးပြု၍ ထုတ်လုပ်ရန် လိုအပ်သကဲ့သို့ မြန်မာနိုင်ငံအစားအသောက် နှင့် ဆေးဝါးကွပ်ကဲရေးဌာန (Myanmar FDA) ၏ အသိအမှတ်ပြုမှုရယူရန်၊

(၅) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP)ရေးဆွဲပြုစုတင်ပြစေပြီး စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၆) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ ပြဋ္ဌာန်းချက်များနှင့် ဆက်လက် ထုတ်ပြန်ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်၊

(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း (၁-၁၁-၂၀၁၃) ရက်စွဲပါစာဖြင့် ဝန်ခံကတိပြုထားပါသည်။)

(ဂ) **စက်မှုဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)**

(၁) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ၁၀၀% ထည့်ဝင်၍ ဆေးရည်(၂)မျိုးနှင့် လိမ်းဆေး (၁)မျိုး ထုတ်လုပ်ရောင်းချမည် ဖြစ်ပါကြောင်း၊

(၂) အနောက်တိုင်းဆေးဝါးထုတ်လုပ်ခြင်းသည် စက်ကိရိယာများ၊ နည်းစဥ်များ၊ ဓါတ်ခွဲခန်းများ၊ ထုတ်လုပ်မည့် ဆေးဝါးများ ၏ မူပိုင်ခွင့်များ၊ သုတေသန စမ်းသပ်အောင်မြင်မှုမှတ်တမ်းများ၊ GMP စနစ်နှင့်အညီ တည်ဆောက်မှုများ၊ နည်းပညာနှင့် ကျွမ်းကျင်ပညာရှင်များ လိုအပ်ပါကြောင်း၊

(၃) အနောက်တိုင်းဆေးဝါးထုတ်လုပ်ရာတွင် အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဌာန၏ WHO GMP ၊ အမျိုးသားဆေးဝါးဥပဒေ (National Drug Law) နှင့်အညီ ထုတ်လုပ်ရန် လိုအပ်ပါကြောင်း၊

(၄) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း စာရင်းတွင် တင်ပြထားသော ကုန်ချောများ ထုတ်လုပ်မှုအတွက် မလိုအပ်သောဆေးပြား ထုတ်လုပ်မှုဆိုင်ရာ စက်ပစ္စည်းများ ထည့်သွင်းထားပြီး တိုးချဲ့ထုတ်လုပ်မည့် အစီအစဥ်ရှိပါကလည်း တိကျစွာ ထည့်သွင်းဖော်ပြသင့်ပါကြောင်း၊

(၅) ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါကြောင်း၊

(၆) နှစ်စဥ်ထုတ်လုပ်မှု နှင့် လူအင်အား အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

**(ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ဆေးအရည်ကိုသာ ထုတ်လုပ်မည်ဖြစ်ကြောင်း တင်ပြလာပါသည်။)**

(ဃ) **ကျန်းမာရေးဝန်ကြီးဌာန (နောက်ဆက်တွဲ - ဃ)**

- Progress Biochem Co., Ltd မှ အနောက်တိုင်း အိမ်သုံးဆေးဝါး ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီးပါက ဆေးဝါးထုတ်လုပ်မှု ဆောင်ရွက်ရန် အမျိုးသား ဆေးဝါးဥပဒေအရ ဆေးဝါးထုတ်လုပ်ခွင့်လိုင်စင် လျှောက်ထားမှသာ အစားအသောက် နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန အနေဖြင့် ကောင်းမွန်သော ထုတ်လုပ်မှု ကျင့်စဥ်နှင့်အညီ ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးဆောင်ရွက်ရန် ရှိပါကြောင်း၊ ပြည်ပ ရင်းနှီးမြှုပ်နှံမှု တိုးတက်လာစေနိုင်ခြင်း၊ ပြည်တွင်း အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်လာနိုင်ခြင်းများ ရရှိနိုင်ပါသဖြင့် ကျန်းမာရေးဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာအရှေ့တိုင်းဘဏ်ရှိ ၁-၇-၂၀၁၃ ရက်နေ့ရှိ ကျပ်ငွေလက်ကျန် ကျပ်(၄၅၇.၈၃)သန်းနှင့် ၂၀-၁၁-၂၀၁၃ နေ့ရက်ရှိ နိုင်ငံခြားငွေလက်ကျန် US$(၀.၂၀)သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အသစ်ဖြစ်ပါကြောင်း၊ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကို ပြည်တွင်းရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ပါကြောင်း၊ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၂။ Progress Biochem Co., Ltd မှ အနောက်တိုင်း ဆေးဝါးများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် စင်္ကာပူနိုင်ငံရှိ Malaysia Chemist (Pte) Ltd. နှင့် နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုး ထားသည့် MOU အား တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) လုပ်ငန်း ဆောင်ရွက်မည့် နေရာအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၉/၂၀၁၃) (၅-၉-၂၀၁၃)အစည်းအဝေးဆုံးဖြတ်ချက်အရ ကော်မရှင်မှ မြေပြင်ကွင်းဆင်းစစ်ဆေးခဲ့ပြီး ကွင်းဆင်းစစ်ဆေးချက်အရ လိုက်နာ ဆောင်ရွက်ရန် အချက်များအား ကုမ္ပဏီသို့အကြောင်းကြားပြီး ဖြစ်ပါသည်။

(ခ) အနောက်တိုင်း ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ GMP Standard နှင့် အညီ အသုံးပြုမည်ဖြစ်ကြောင်းတင်ပြထားပြီး GMP Certificate တင်ပြထားခြင်းမရှိပါ။

(ဂ) အဆိုပြုကုမ္ပဏီနှင့် MOU ရေးထိုးထားသည့် စင်္ကာပူနိုင်ငံရှိ Malaysia Chemist (Pte)Ltd. ၏ (၃၀-၆-၂၀၀၀) ရက်စွဲဖြင့် ဆေးဝါးထုတ်လုပ်ခွင့်လိုင်စင်သာ တင်ပြထားပါသည်။ **(နောက်ဆက်တွဲ-င)**

(ဃ) ဆေးဝါးလုပ်ငန်းများ နှင့် စပ်လျဉ်း၍ (၂၃-၁၁-၂၀၁၁) နေ့ရက်တွင် ကျင်းပသော ကော်မရှင်၏ (၂၅/၂၀၁၁) ကြိမ်မြောက်အစည်းအဝေး မှ " ဆေးဝါးထုတ်လုပ်မှု ကိစ္စနှင့် ပတ်သက်၍ မြေနေရာ ရွေးချယ်မှု၊ ရေသန့်ရှင်းမှုနှင့် လုံလောက်မှု၊ ပတ်ဝန်းကျင်ရှိ စက်ရုံများ အနေအထား၊ Brand အသိအမှတ်ပြု စမ်းသပ်ပြီးဆေးဝါးများ၊ ငွေကြေး ခိုင်မာမှု၊ တရားဝင်ဘဏ်တွင် ဖော်ပြနိုင်မှု၊ စတင် ထုတ်လုပ်ရန် အသင့်ဖြစ်ပါက ကျန်းမာရေး ဝန်ကြီးဌာန တာဝန်ရှိအဖွဲ့အစည်းမှ အစစ်ဆေးခံရန်နှင့် လိုက်နာမှုမရှိက လုပ်ငန်း လုပ်ကိုင်ခွင့်အားရုပ်သိမ်းမည်ဟုစာချုပ်ချုပ်ဆိုထားရန်နှင့် အဆိုပါကိစ္စရပ် အလုံးစုံပြုလုပ်ပြီးပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးအဖွဲ့သို့ တင်ပြ၍ ခွင့်ပြုချက်ရယူသွားရန်"ဆုံးဖြတ်ခဲ့ပါသည်။ **(နောက်ဆက်တွဲ-စ)**

(င) ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါကုမ္ပဏီ (၅)ခု အား ယာယီခွင့်ပြုမိန့် နှင့် Sagaing June Pharmaceutical & Foodstuff Industry Ltd. အား ကော်မရှင်၏ ၁၀/၂၀၁၃ (၁၃-၃-၂၀၁၃) ကြိမ်မြောက်

အစည်းအဝေး မှ ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၉၀/၂၀၁၃ (၁၃-၃-၂၀၁၃)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်-

(၁) Pacific Medical Industries Co., Ltd,

(၂) Fame Pharmaceutical Industry Co., Ltd.

(၃) Myanmar Golden Earth Co., Ltd.

(၄) Silver Shine International Co., Ltd.

(၅) Myanmar Organic Resources Industries Co., Ltd.

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ (က၊ဂ၊ဃ၊စ၊ဆ၊ဇ၊ဈ၊ည၊ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၅။ သို့ဖြစ်ပါ၍ Progress Biochem Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့တွင် အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

နောက်ဆက်တွဲ (က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ ( ၅ ) / စီးပွား
ရက်စွဲ ၊၂၀၁၃ ခုနှစ် အောက်တိုဘာ လ၊၁ ရက်

1-1180
23/10

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၉-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ရက-၆(က)/ မ - ၁၃၆၁ / ၂၀၁၃ (၁၀၁၀၆ -င)

၁။ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့အပိုင်း(၁)၊ မြေကွက်အမှတ် (၁၄၅-ခ၊ ၁၄၆-က) ရှိ မြေ (၁.၀၈၀) ဧကအနက် ၀.၅၈ဧက (၂၅၂၈၀) စတုရန်းပေပေါ်တွင် အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်သည့်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် Progress Biochem Co., Ltd. က တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ညှိနှိုင်းမေတ္တာ ရပ်ခံလာခြင်းနှင့် ပက်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကုမ္ပဏီ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ စက်မှုဇုန်နယ်မြေအတွင်း၌ဖြစ်ပြီး ကုမ္ပဏီပိုင်မြေ (၁.၀၈၀ဧက) (၄၇၀၆၀စတုရန်းပေ)ပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်ခြင်းမရှိပါ။

(ခ) ကုမ္ပဏီ၏ အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်မည်ဆိုပါက ပြည်တွင်းဝန်ထမ်းအင်အား (၈၀)ဦး ခန့်အပ်ပေးနိုင်မည် ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) ဖော်ပြပါမြေနေရာအား လုပ်ငန်းအတွက်အသုံးပြုခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၁၇-၁၀-၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၃)၊ ဆုံးဖြတ်ချက်အပိုဒ် ( ၆၀ ) အရ Progress Biochem Co., Ltd. ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

၃။ ဝန်ကြီးချုပ်ပြင်ပခရီးသွားနေပါသဖြင့် စက်မှုဇုန်တာဝန်ခံဝန်ကြီးမှ လက်မှတ်ရေးထိုး တင်ပြရခြင်းဖြစ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

(ဉာဏ်ထွန်းဦး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
လှိုင်သာယာမြို့နယ် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
Progress Biochem Co., Ltd.
လက်ခံစာတွဲ/ မျှောစာတွဲ



နောက်ဆက်တွဲ (ခ)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

1_1150
18/10

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၇၀၅၅ /၂၀၁၃)
ရက်စွဲ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အကြောင်းအရာ။ Progress Biochem Co.,Ltd အနောက်တိုင်း အိမ်သုံးဆေးဝါးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၈-၂၀၁၃ ရက်စွဲပါစာအမှတ်-ရက - ၆ (ခ) / န - ၈၇၅ /၂၀၁၃ (၉၉၅၁)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Progress Biochem Co.,Ltd သို့ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၁)၊ မြေကွက်အမှတ် (၁၄၅-ခ၊ ၁၄၆-က) ရှိ မြေ (၁.၀၈၀) ဧကအနက် (၀.၅၈) ဧကအား ငှားရမ်း၍ အနောက်တိုင်း အိမ်သုံးဆေးဝါးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ တင်ပြလာခြင်းအပေါ် စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း၊ မြေငှားစာချုပ်၊ ပြည်ပမှမှာယူတင်သွင်းမည့် စက်ပစ္စည်းစာရင်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်မည့် အစီအမံများ၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက်ထားမှုများနှင့်အတူ ရာခိုင်နှုန်းပြည့်နိုင်ငံသား ရင်းနှီးမြှုပ်နှံ ဆောင်ရွက်မည်ဖြစ်ပြီး ထုတ်ကုန်များအားပြည်တွင်း၌ (၁၀၀%) ရောင်းချသွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးနှင့် ပတ်သက်၍ စက်ရုံအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ စက်ရုံဝန်းကျင်နှင့် ရေနုတ်မြောင်းများရေစီးရေလာကောင်းအောင်ပြုပြင်ခြင်း၊ စက်ရုံမှထွက်လာမည့် စွန့်ပစ်ရေဆိုးများအား Waste Water Treatment Plan တပ်ဆင်၍ စွန့်ပစ်မည်ဖြစ်ပြီး စွန့်ပစ်ပစ္စည်းနှင့် အမှိုက်များအား စနစ်တကျ စွန့်ပစ်မည်ဖြစ်ကြောင်း၊ ထုတ်ကုန်အရည်အသွေးနှင့်ပတ်သက်၍ ဆေးဝါးစက်ရုံအား WHO

Guideline အရ Good Manufacturing Practrices (GMP) Standard စနစ်ကို အသုံးပြုမည်ဖြစ်ပြီး GMP Check List အတိုင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် စနစ်တကျထိန်းသိမ်းဆောင်ရွက်မည့် အသေးစိတ်အစီအစဉ်နှင့် စီမံချက်များ၊ စွန့်ပစ်ပစ္စည်းများအား ပြန်လည်အသုံးပြုမည့်နည်းစနစ်များနှင့် ထုတ်လုပ်မှုနည်းစဉ်များ အသေးစိတ်ဖော်ပြထားခြင်းမရှိသည်ကို စိစစ် တွေ့ရှိရပါသည်။

၃။ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှုရှိ/မရှိနှင့် ပတ်သက်၍ ဆေးဝါးစက်ရုံအတွက် လိုအပ်သောအဆောက်အဦများ ဆောက်လုပ်ရာတွင် ဆောက်လုပ်ရေးလုပ်ငန်းမှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ ဆောက်လုပ်ရေးလုပ်ငန်းသုံးယာဉ်/ယန္တယားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်မြေထု၊ လေထုနှင့်အသံညစ်ညမ်းနိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် စက်များအသုံးပြုဆောင်ရွက်မည်ဖြစ်၍ အသံဆူညံခြင်း၊ စက်ရုံလည်ပတ်ရာမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည် နှင့် အနံ့အသက်များကြောင့် ကျန်းမာရေးနှင့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်စေနိုင်သည်ကို စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Progress Biochem Co.,Ltd သို့ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၁)၊ မြေကွက်အမှတ် (၁၄၅-ခ၊ ၁၄၆-က) ရှိ မြေ (၁.၀၈၀) ဧကအနက် (၀.၅၈) ဧကအား ငှားရမ်း၍ အနောက်တိုင်း အိမ်သုံးဆေးဝါးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) စက်ရုံအဆောက်အဦဆောက်လုပ်ရာတွင် လေဝင်လေထွက်ကောင်းမွန်ရေးနှင့် မီးလောင်မှု ဖြစ်ပွားပါက အသုံးပြုနိုင်မည့် အရေးပေါ်ထွက်ပေါက်များနှင့် အရေးပေါ်မီးသတ်ရန် ရေကန်များအား စနစ်တကျထည့်သွင်း တွက်ချက်တည်ဆောက်ရန်နှင့် စက်သုံးဆီ သိုလှောင်ရုံများနှင့် ပေါက်ကွဲစေတတ်သော ဓာတုပစ္စည်းသိုလှောင်ရုံများအား သီးခြားခွဲ၍ တည်ဆောက်ရန်၊

(ခ) အဆိုပါလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်ဆီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စက်ရုံလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် ပတ်ဝန်းကျင်ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများနှင့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုရန်၊

(ဂ) စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်အရည်နှင့် အဆီများ စွန့်ပစ်ရန်လိုအပ်လာပါက စက်မှု ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်၊ စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အရည်/ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲထားရန်၊

(ဃ) ဆေးဝါးထုတ်လုပ်မှုတွင် မြန်မာနိုင်ငံကျန်းမာရေးဝန်ကြီးဌာနနှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO) ၏ ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှုကျင့်စဉ်များ (Good Manufacturing Practice-GMP)ကိုအသုံးပြု၍ ထုတ်လုပ်ရန် လိုအပ်သကဲ့သို့ မြန်မာနိုင်ငံအစားအသောက် နှင့် ဆေးဝါးကွပ်ကဲရေးဌာန (Myanmar FDA) ၏ အသိအမှတ်ပြုမှုရယူရန်၊

(င) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲပြစုတင်ပြစေပြီး စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန် ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့်စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန် ။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

၁.1080
21.9.13

စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၃-၂၀၁၄ ( ၃၁၉၄ )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ ၂၅ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၉.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၃၆၁/၂၀၁၃(၁၀၁၀၆-ဆ)

၁။ Progress Biochem Co.,Ltd သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ အပိုင်း(၁)၊ မြေကွက်အမှတ်(၁၄၅-ခ၊ ၁၄၆-က) တွင် အနောက်တိုင်းအိမ်သုံးဆေးဝါးထုတ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ၁၀၀% ထည့်ဝင်၍ ဆေးရည်(၂)မျိုးနှင့် လိမ်းဆေး (၁)မျိုး ထုတ်လုပ်ရောင်းချမည်ဖြစ်ပါသည်။

(ခ) အနောက်တိုင်းဆေးဝါးထုတ်လုပ်ခြင်းသည် စက်ကိရိယာများ၊ နည်းစဉ်များ၊ ဓာတ်ခွဲခန်းများ၊ ထုတ်လုပ်မည့်ဆေးဝါးများ၏ မူပိုင်ခွင့်များ၊ သုတေသနစမ်းသပ်အောင်မြင်မှုမှတ်တမ်းများ၊ GMP စနစ်နှင့်အညီ တည်ဆောက်မှုများ၊ နည်းပညာနှင့် ကျွမ်းကျင်ပညာရှင်များ လိုအပ်ပါသည်။

(ဂ) အနောက်တိုင်းဆေးဝါးထုတ်လုပ်ရာတွင် အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဌာန၏ WHO GMP ၊ အမျိုးသားဆေးဝါးဥပဒေ (National Drug Law) နှင့်အညီထုတ်လုပ်ရန်လိုအပ်ပါသည်။

(ဃ) ပြည်ပမှကင်သွင်းမည့်စက်ပစ္စည်းစာရင်းတွင် တင်ပြထားသော ကုန်ချောများ ထုတ်လုပ်မှုအတွက် မလိုအပ်သောဆေးပြား ထုတ်လုပ်မှုဆိုင်ရာ စက်ပစ္စည်းများထည့်သွင်းထားပြီး ကိုးရဲ့ထုတ်လုပ်မည့်အစီအစဉ်ရှိပါကလည်း တိကျစွာ

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အားအချိုးအစားညီညွတ်မှုရှိပါသည်။

၃။ သို့ပါ၍ Progress Biochem Co.,Ltd မှ အနောက်တိုင်းအိမ်သုံးဆေးဝါးထုတ်လုပ်သည့်လုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး အမျိုးသားဆေးဝါးဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲ ဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါ ကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ကျ၊၉ ၆၂၉/၂၇၁၉




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

နောက်ဆက်တွဲ (ဃ)

ဝန်ကြီးရုံး

စာအမှတ်၊ ၂၀မခ(ဆ)၂၀၁၃(၂၃၆၇)/ ၁၂၁၇၃

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ(၁၉)ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃-၉-၂၀၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၆၀/၂၀၁၃(၁၀၁၀၆-စ)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ Progress Biochem Co., Ltd မှ အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်နှင့်စပ်လျဉ်း၍ ထုတ်လုပ်မည့်ဆေးဝါးများအပေါ် ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Progress Biochem Co., Ltd မှ အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီးပါက ဆေးဝါးထုတ်လုပ်မှုဆောင်ရွက်ရန် အမျိုးသားဆေးဝါး ဥပဒေအရ ဆေးဝါးထုတ်လုပ်ခွင့်လိုင်စင်လျှောက်ထားမှသာ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာနအနေဖြင့် ကောင်းမွန်သောထုတ်လုပ်မှု ကျင့်စဉ်နှင့်အညီ ကိုက်ညီမှုရှိ/မရှိ စစ်ဆေးဆောင်ရွက်ရန်ရှိပါကြောင်း၊ ပြည်ပရင်းနှီးမြှုပ်နှံမှု တိုးတက်လာစေနိုင်ခြင်း၊ ပြည်တွင်းအလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်လာနိုင်ခြင်းများ ရရှိနိုင်ပါသဖြင့် ကျန်းမာရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဒေါက်တာသိန်းသိန်းဌေး၊ ဒုတိယဝန်ကြီး)






# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ယာယီခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၀၀၇/ ၂၀၁၃(ယာယီ) ။ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာ လ [illegible] ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ယာယီထုတ်ပေးလိုက်သည်။

| | | |
|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံသူ၏အမည် | ဒေါ်ခင်သန်းအေး |
| (ခ) | အဘအမည် | ဦးဆိုင်ရာ |
| (ဂ) | နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/လမတ(နိုင်) ၀၀၀၅၂၈ |
| (ဃ) | နေရပ်လိပ်စာ | အမ်အေစီတာဝါ(၂)၊အမှတ်(၇၉၇)၊အခန်းအမှတ်-ဘီ(၁၀၀)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း နှင့် ဝါးတန်းလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | ဖွဲ့စည်းထားသည့်(သို့မဟုတ်) ဖွဲ့စည်းမည့်အဖွဲ့အစည်း | Progress Biochem Co., Ltd |
| (စ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်း အမျိုးအစား | အနောက်တိုင်းအိမ်သုံးဆေးဝါး ထုတ်လုပ်သည့်လုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) | ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတဉ်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်-၁၄၅(ခ)၊ ၁၄၆(က) ရှိ မြေ (၁.၀၈၀)ဧက အနက် (၀.၅၈) ဧက |
| (ဇ) | မတည်ငွေရင်းပမာဏ(ကျပ်) | ၇၂၈.၆၄ (သန်း) ( အမေရိကန်ဒေါ်လာ ၀.၆၈ သန်း အပါအဝင် စုစုပေါင်း ကျပ်ခုနစ်ရာ နှစ်ဆယ့်ရှစ်သန်း နှင့် ခြောက်သိန်းလေးသောင်းခန့်) |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မှတ်ချက်

- ရင်းနှီးမြှုပ်နှံသူသည် ပူးတွဲပါ ကတိဝန်ခံချက်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ပြီး သတ်မှတ်စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ၊ သတ်မှတ်ကာလအတွင်း ပြီးမြောက်အောင် အကောင်အထည်ဖော်နိုင်ခြင်း မရှိလျှင်ဖြစ်စေ ဤယာယီခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်သည်။

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
## မြေပြင်ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၇ ရက်

**နိဒါန်း**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ယာယီခွင့်ပြုမိန့် ၀၀၇/၂၀၁၃(၂၇-၁၂-၂၀၁၃)ဖြင့် ဆောင်ရွက်လျက်ရှိသော Progress Biochem Company Limited ၏ အနောက်တိုင်းအိမ်သုံးဆေးဝါးထုတ်လုပ်သည့် စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေကို စစ်ဆေးရန်အတွက် မြေပြင်ကွင်းဆင်းစစ်ဆေးရေး အဖွဲ့သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ အပိုင်း(၁)၊ ပန်းတည်းဝန် ဦးရွှေဘင်လမ်း၊ အမှတ် ၁၄၅(ခ) နှင့် ၁၄၆(က)သို့ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်နေ့တွင် သွားရောက်၍ ကွင်းဆင်းစစ်ဆေးမှုများပြုလုပ်ခဲ့ပါသည်။

**ရည်ရွယ်ချက်**

၂။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့အနေဖြင့် အောက်ပါအချက် အလက်များပေါ် အခြေခံ၍စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်-

(က) တည်ဆောက်ပြီးစီးမှု အခြေအနေ။

(ခ) ပြည်တွင်း၊ ပြည်ပ ဝန်ထမ်းခန့်ထားမှု အခြေအနေ။

(ဂ) စက်ပစ္စည်း တပ်ဆင်ထားမှု အခြေအနေ။

(ဃ) ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး ဆောင်ရွက်ထားရှိမှု။

(င) အဆိုပြုချက်၊ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်ပါ ကတိကဝတ် သတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်မှု။

(စ) အခြားလိုအပ်သော အချက်များကိုပါ ထည့်သွင်းစစ်ဆေးရန်။

**စစ်ဆေးရေးအဖွဲ့**

၃။ စစ်ဆေးရေးအဖွဲ့ဝင်များမှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ဒေါ်စန်းစန်းမြင့် | ညွှန်ကြားရေးမှူး | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ခေါင်းဆောင် |
| (ခ) | ဦးမျိုးလွင် | ညွှန်ကြားရေးမှူး | ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင် |

| | | | | |
|---|---|---|---|---|
| (ဂ) | ဦးသိန်းဆွေ | ဒုတိယ ညွှန်ကြားရေးမှူး | စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင် |
| (ဃ) | ဒေါ်အေးသီတာထွန်း | လက်ထောက် စက်ရုံမှူး | မြန်မာ့ဆေးဝါးလုပ်ငန်း | အဖွဲ့ဝင် |
| (င) | ဦးကျော်စိုးလင်း | လက်ထောက် ညွှန်ကြားရေးမှူး | ပြည်တွင်းအခွန်များ ဦးစီးဌာန | အဖွဲ့ဝင် |
| (စ) | ဒေါ်မေသန့်ဇင် | လက်ထောက် ညွှန်ကြားရေးမှူး (မြို့ပြ) | လမ်းဦးစီးဌာန | အဖွဲ့ဝင် |
| (ဆ) | ဒေါ်အေးမြမြဝင်း | ဦးစီးအရာရှိ (ဆေးဝါး) | အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန | အဖွဲ့ဝင် |
| (ဇ) | ဒေါ်စန္ဒာမြင့် | ဦးစီးအရာရှိ | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ဝင် |
| (ဈ) | ဦးသိန်းကိုကို | ဦးစီးအရာရှိ | အလုပ်ရုံ စစ်ဆေးရေး လိှုင်သာယာစက်မှုဇုန်ရုံး | အဖွဲ့ဝင် |
| (ည) | ဦးကျော်ကျော်ခိုင် | ဒုတိယဦးစီးမှူး | ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | အဖွဲ့ဝင် |

**စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိချက်များ**

၄။ စစ်ဆေးရေးအဖွဲ့မှ Progress Biochem Company Limited ၏ စက်ရုံ တည်ဆောက် ပြီးစီးမှု အခြေအနေအပေါ် သွားရောက်စစ်ဆေးရာတွင် အောက်ပါအတိုင်း စစ်ဆေးတွေ့ရှိ ခဲ့ပါသည်-

(က) စက်ရုံအဆောက်အဦ (၃)လုံးသည် ကောင်းမွန်ခိုင်ခန့်စွာ စနစ်တကျဆောက်လုပ်ထားကြောင်း တွေ့ရှိရပြီး စက်ရုံတည်ဆောက်မှု (၁၀၀%)ပြီးစီးပြီး ဖြစ်ပါသည်။ ကုန်ထုတ်လုပ်မှုဧရိယာ (Clean Area)တွင် Walling, Ceiling တို့အား Flush Honey comb Composite Board များ တပ်ဆင်တည်ဆောက်ခြင်း၊ Floor မှာ Epoxy Floor ခင်းခြင်း၊ ကုန်ထုတ်လုပ်မှုစက် Bottle Filling, Sealing & Capping Machine (1) unit (Capacity: 60 bots/ min, Country of Origin: Taiwan)နှင့် အရည်အသွေးစိစစ်ရေး စက်များ တပ်ဆင်ထားခြင်း၊ HVAC

System (Chiller (3) units, AHU (3)units, MAU(1) unit & clean room Accessories) တပ်ဆင်ထားပြီး ကုန်ထုတ်လုပ်မှု ဧရိယာအလိုက် AHU များအား သီးခြားတပ်ဆင်ခြင်း၊ ကုန်ကြမ်း/ကုန်ချောသိုလှောင် ရုံများတွင် လည်း သီးခြား Air Conditioning Unit များတပ်ဆင်ထားခြင်းနှင့် Utility Machinery များတပ် ဆင်ထားခြင်း၊ အဆိုပါတပ် ဆင်ထားသော စက်များအားလုံး စက်စမ်းသပ် လည် ပတ်ထားခြင်းတို့ကို တွေ့ရှိရကြောင်း၊ တရုတ်နိုင်ငံမှ ဆေးရည် ဖျော်စက် 500 Litre နှင့် 800 Litre စက်များ တပ်ဆင်၍ လုပ်ငန်းဆောင်ရွက်ရန်အဆင်သင့်ရှိပြီး စက် တစ်လုံးမှာပြည့်စုံစွာ တပ်ဆင်ရန် ဆောင်ရွက်ဆဲဖြစ်ကြောင်း၊

(ခ) စက်ရုံသည် ဆေးဝါးထုတ်လုပ်သည့် စက်ရုံဖြစ်သည့်အတွက် ဆေးဝါးထုတ်လုပ်ရေး အခန်းများတွင် ကျွမ်းကျင်ဝန်ထမ်း (၂)ဦး စီဖြင့် လုပ်ကိုင်မည် ဖြစ်သည့်အတွက် ဝန်ထမ်းစုစုပေါင်း (၁၀)ဦး ဖြစ် ပါကြောင်း သက်သာချောင်ချိရေး ဆောင်ရွက် ပေးမှု မှာ စက်ရုံမှ အလုပ်သမားများအား နေ့လည်စာကျွေးမွေးခြင်း၊ ကြို/ပို့ ယာဉ်များ စီစဉ်ပေးခြင်း၊ အဆောင်စီစဉ်ပေးခြင်းများ ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(ဂ) လျှပ်စစ်ဓါတ်အားရရှိမှုအပိုင်းတွင် လျှပ်စစ် ဓါတ်အား အပြည့်အဝမရရှိသဖြင့် 11 KVA မှ 32 KVA ထိတပ်ဆင်ပြီး အသုံးပြုမှုသာ အဆင်ပြေမည်ဖြစ်၍ 32 KVA တပ် ဆင်ဆောင်ရွက် လျှက်ရှိ ပါသည်။

(ဃ) တစ်နှစ်လျှင် ဆေးရည် ၁၄၄ တန် ထုတ်လုပ်မည်ဖြစ်၍ တစ်နှစ်လျှင် ထုတ်လုပ်မှုတန် (၅၀) နှင့် အထက်ဖြစ်ပါသဖြင့် Environmental Impact Accessment – EIA) တင်ပြရန် လိုအပ်ပါသည်။

(င) ကျွမ်းကျင်ဝန်ထမ်း အရေအတွက် ကျား(၂)ဦး၊ မ(၁၀)ဦး၊ နှင့် သာမန်ဝန်ထမ်း အရေ အတွက် ကျား(၉)ဦး၊ မ(၁)ဦး၊ စုစုပေါင်း (၂၂)ဦး ခန့်ထားပြီး ဖြစ် ပါသည်။ အုပ်ချုပ် မှုဆိုင်ရာ ဝန်ထမ်းခန့်ထားမှုမှာ မရှိသေးသည်ကို တွေ့ရှိရပါသည်။ လုပ်ခလစာ အခြေအနေမှာ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ (၁၁၀,၀၀၀/-)ကျပ်ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာ (၅၀၀,၀၀၀/-)ကျပ် ဖြစ်ကြောင်း၊ စက်ရုံတွင် နိုင်ငံခြားသားဝန်ထမ်းခန့်ထားမှု မရှိ သေးပါ။

(စ) ကျန်းမာရေးစောင့်ရှောက်မှု အနေဖြင့် စက်ရုံမှ အလုပ်သမားများအား ကျန်းမာရေး စောင့်ရှောက်မှုများ ပေးမည်ဖြစ်ပြီး အလုပ်သမားများအတွက် လူမှုဖူလုံရေး ထည့် ဝင်ကြေးများကိုပါ ထည့်ဝင်သွားမည်ဖြစ်ပါသည်။

(ဆ) လုပ်သားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သ မားများအား ကိုယ်ခန္ဓာအကာအကွယ်သုံး ဝတ်စုံများ၊ Personal Protective

Equipment (PPE) များ ဝတ်ဆင်လုပ်ကိုင်စေမည် ဖြစ်ပါကြောင်း၊ စက်ရုံ၏ ဓါတ်ခွဲခန်းတွင် ဓာတုဗေဒပစ္စည်းများ အန္တရာယ်ကင်းရှင်းရေး လမ်းညွှန်ချက် (Chemical Safety Data Sheet)အား ကပ်ထားသည်ကို တွေ့ရှိရပါကြောင်း၊ ၎င်းဓါတ်ခွဲခန်းတွင် ဓါတုဗေဒပစ္စည်းများ မျက်လုံးအတွင်းသို့ ဝင်ပါက အရေးပေါ် ဆေးကြောနိုင်သော Eye Wash Fountain (မျက်စိဆေး ကြောသောနေရာ) ထားရှိထားသည်ကို တွေ့ရှိရပါကြောင်း။

(ဇ) စက်ရုံတည်ဆောက်မှု ပြီးစီးသော်လည်း ဆေးဝါးထုတ်လုပ်ရန် Cleaning Procedure နှင့် Fumigation Process များ ဆောင်ရွက်ရန် ကျန်ရှိခြင်း၊ ဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်း စတင်ဆောင်ရွက်ခြင်း မရှိသေးဘဲ Laboratory Scale များသာ စမ်းသပ်ထုတ်လုပ်ထားကြောင်း တွေ့ရှိရပါကြောင်း။

(ဈ) အခန်းတိုင်းတွင် "Label" များ တပ်ဆင်ရန်၊ Production area တွင် Temperature, Pressure & Humid Monitoring System များ တပ်ဆင်ရန်၊ ကုန်ကြမ်းနှင့် ကုန်ချော သိုလှောင်ရုံတွင် သာမိုမီတာနှင့် အပူချိန် မှတ်တမ်းများ ထားရှိရန်လိုအပ်ကြောင်း တွေ့ရှိရပါကြောင်း။

**သုံးသပ်တင်ပြချက်**

၅။ Progress Biochem Company Limited ၏ စက်ရုံ၏ တည်ဆောက်ပြီးစီးမှု အခြေအနေနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်သုံးသပ်ရရှိပါသည်-

(က) Phase I အနေဖြင့် သောက်ဆေးရည်(၃)မျိုး(Paracetamol Suspension, Paracetamol Syrup, Multivitamin Syrup) ထုတ်လုပ်မည်ဖြစ်ကြောင်း။

(ခ) Clean Area နှင့် Unclassified Area တို့အကြားတွင် Air Flow မှန်ကန်စေရေး၊ Clean Areaများတွင် Temperature, Humidity, Pressure differentials Monitoring ပြုလုပ်နိုင်ရန်အတွက် စီမံ ဆောင်ရွက်ပေးရန်၊ မိုးရွာပါက အဆောက်အဦများ၏ ရေတလျှောက်များအား ပြန်လည် ပြုပြင်ပေးရန်၊ ကုန်ထုတ်စက်များတွင် ဆေးရည် နှင့် တိုက်ရိုက်ထိတွေ့သော နေရာများ (Mixing Tank, Transfer Pump & Piping) တွင် အသုံးပြုသော Stainless Steel များမှာ SS 316 ဖြစ်ရန် လိုအပ်ကြောင်း။

(ဂ) ဝန်ထမ်းများတွင် Pharmaceutical လုပ်ငန်း ကျွမ်းကျင်သူများပါဝင်ပြီး ယခင် BPI (မြန်မာ့ဆေးဝါးစက်ရုံ)တွင် တာဝန်ထမ်းဆောင်ခဲ့သည့် အငြိမ်းစားဝန်ထမ်းများ ဖြစ်ကြောင်းနှင့်ဝန်ထမ်းများအားပြည်ပမှဆေးဝါးကျွမ်းကျင် အကြံပေးများဖြင့် သင်တန်းပေး စေလွှတ်ဆောင်ရွက် မည်ဖြစ်ကြောင်း။

(ဃ) စက်ယန္တရားများအားလည်း ထိုင်ဝမ်ထုတ် ခေတ်မီ စက်များဖြင့် ဆေးထုတ်လုပ် ရန် စီစဉ်ထားရှိပြီး နောင်တွင် Tablet အဆင့်ထိတိုးမြှင့် ထုတ်လုပ်သွားမည် ဖြစ်ကြောင်း။

(င) ဘွိုင်လာ စစ်ဆေး၍တပ်ဆင်ပြီးပါက လိုင်စင်ထုတ်ပေးမည်ဖြစ်ပါကြောင်း၊ မီးစက်အား လုပ်ငန်းခွင်လိုင်စင် လျှောက်ထားရန်နှင့် စီးပွားဖြစ်စတင် လည်ပတ် ထုတ်လုပ်ပါက စက်မှုမှတ်ပုံတင်လျှောက်ထားရန် လိုအပ်ကြောင်း။

(စ) Finished Warehouse နှင့် Raw Material Warehouse တို့တွင် အရေးပေါ်အခြေ အနေများနှင့် တွေ့ကြုံပါက စနစ်တကျ ထွက်နိုင်ရန်အတွက် အရေးပေါ် ထွက်ပေါက် သွားလမ်းများ သတ်မှတ်ထားရန်၊ ၎င်းအရေးပေါ် ထွက်ပေါက် သွားလမ်းများ၏ Warehouse များ ကြမ်းပြင်များတွင် သုတ်ဆေးဖြင့် လိုင်းသားပြီး လမ်းညွှန်သင်္ကေတများ သတ်မှတ်ထားရှိရန် ၊ ထို့ပြင် အရေးပေါ် ထွက် ပေါက်များတွင် “Exit” စာတမ်း ကပ်ထားရန် လိုအပ်ကြောင်းနှင့် စက်ရုံတွင် Emergency Layout Plan ထားရှိရန် လိုအပ်ကြောင်း။

(ဆ) စက်ရုံတွင် မီးသတ်ဆေးဗူးများ ထားရှိရန် ။

(ဇ) စက်ရုံတွင် မီးလောင်လွယ်သည့် ပစ္စည်းများ (Combustible Material) များအား အခန်းသီးသန့် ကာရံထားရှိရန် လိုအပ်ကြောင်း။

(ဈ) Cleaning Procedure နှင့် Fumigation Process များနှင့် အထက်ပါ လိုအပ်ချက်များဖြည့်ဆည်း ဆောင်ရွက်ပြီးစီး ပါက ဆေးဝါးထုတ်လုပ်ရန် စတင်နိုင်ပြီး အစားအသောက်နှင့် ဆေးဝါးကွပ်ကဲ ရေးဦးစီးဌာနမှ ဆေးဝါးထုတ်လုပ်နေစဉ် ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှု ကျင့်စဉ် GMP နှင့် ကိုက်ညီမှု ရှိ/မရှိ ကို ကွင်း ဆင်းစစ်ဆေးမည်ဖြစ်ကြောင်း။

(ည) ဘဏ္ဍာရေးပိုင်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် Stakeholder (၃) ဦးဖြင့် ဆောင်ရွက်လျက်ရှိပြီး စာရင်းဇယားများ Import-Machine များ Material များ Raw များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ကင်းလွတ်ခွင့်အရ တင်သွင်းမှု အပေါ်စာရင်း ဇယားများထားရှိရန် အခွန်ငွေ နှင့်ပတ်သက်၍ အစစ်ခံရန် စာရင်း စနစ်တကျ ထားရှိရန် လမ်းညွှန်ခဲ့ပါသည်။

(၄) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ တွေ့ရှိလမ်းညွှန်ချက်များ နှင့် လိုအပ်ချက်များကို ကုမ္ပဏီမှဆောင်ရွက်ပြီးစီးကြောင်း ပြန်လည်တင်ပြပြီးဖြစ်ပါသည်။

(၅) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ယာယီခွင့်ပြုမိန့် အမှတ်၊မနသ-၀၀၇/၂၀၁၃ (၂၇-၁၂-၂၀၁၃) ပါ ရင်းနှီးမြှုပ်နှံသူ၏ ကတိဝန်ခံချက် အပိုဒ် (၃)တွင်ပါရှိသည့်

စက်ရုံတည်ဆောက်ပြီးစီးပြီး ဆေးဝါးထုတ်လုပ်ရန် အဆင်သင့်ဖြစ်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သတင်းပို့ပြီး ကော်မရှင်မှ ကွင်းဆင်းစစ်ဆေးပြီး သတ်မှတ်ထားသည့် စည်းမျဉ်း၊ စည်းကမ်းများသိရှိပါ၍ တင်ပြလာခြင်းဖြစ်ပါသည်။

၇.၁၀.၂၀၁၅

(စန်းစန်းမြင့်)

ညွှန်ကြားရေးမှူး